ကုမ္ပဏီအမည် - Tarchileik (Eastern Shan State), Water Supply Co., Ltd.Limited

လုပ်ငန်း - **တာချီလိတ်မြို့နယ် စည်ပင်သာယာရေးအဖွဲ့ နှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd. တို့မှ B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၄-၆-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၂၃/၂၀၁၆ သို့တင်ပြခြင်း | ၂၀-၆-၂၀၁၆ | | |
| ၃ | PAT အစည်းအဝေးဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂၉-၆-၂၀၁၆ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း**<br>(က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး<br>(ခ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန<br>(ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန | <br>၁၁-၇-၂၀၁၆<br>၁၆-၆-၂၀၁၆<br>၁၆-၆-၂၀၁၆ | <br>၂၃-၈-၂၀၁၆<br>၂၉-၇-၂၀၁၆<br>၁-၇-၂၀၁၆ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၅-၇-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှပြန်လည်ပြင်ဆင်တင်ပြလာခြင်း | ၃၁-၈-၂၀၁၆ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၁၇/၂၀၁၆)MIC | ၉-၉-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၈၅ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | **Tachileik (Eastern Shan State), Water Supply Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း |
| တည်နေရာ | ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ပေွပေးကျေးရွာအနီးရှိ မြေ (၃.၉၂)ဧကနှင့် ဖက်ဟိအပေါ်ရွာရှိမြေ (၅.၂၁)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၁၆,၈၇၃.၀၀၀ ကျပ်သန်း |
| လုပ်ငန်းသက်တမ်း | ၅၀ နှစ် (၁၀ နှစ်ကြိမ် သက်တမ်းတိုး) |
| အရင်းကြေကာလ | ၂၀ နှစ် |
| IRR | ၉.၉၁၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၇၁.၃၀ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၄၅၀.၈၉သန်း | ကျပ် ၁,၆၂၉.၅၄ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၁,၇၇၀.၀၀ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်းကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း (၁) ဦး |
| ၇ | CSR (၂%) | - | ကျပ် ၁၃၁.၅၄ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၄၉)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | **ကျပ် ၆၂၅.၁၉ သန်း** | **ကျပ် ၃,၅၃၂.၂၈ သန်း** |
| | | ၁ း ၅ | |

တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီ နှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd.တို့မှ B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | Tarchileik (Eastern Shan State), Water Supply Co., Ltd. | B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း | ၂၃/၂၀၁၆ ၂၀-၆-၂၀၁၆ | (က)ထည့်ဝင်ပြီးနှင့် ထပ်မံထည့်ဝင်မည့် မတည်ငွေရင်းပမာဏခွဲခြားဖော်ပြရန်၊ | ပြင်ဆင်ပြီး | |
| | | | | (ခ) Tarchileik (Eastern Shan State) Water Supply Co., Ltd. အမည်ဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသော B.O.T စာချုပ် (မူကြမ်း) တင်ပြရန်၊ | စာချုပ်မူကြမ်းတင်ပြထားပါသည်။ | |
| | | | | (ဂ) တင်သွင်းပြီးစက်ပစ္စည်းနှင့် ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းစာရင်း၊ ယာဉ်၊ယန္တရားစာရင်းအားစိစစ်ပြီးခွဲခြားတင်ပြရန်၊ | ပြင်ဆင်ပြီး | |
| | | | | (ဃ)စီးပွားရေးဆိုင်ရာတွက်ချက်မှုများပြင်ဆင်တင်ပြရန်။ | ပြင်ဆင်ပြီး | |
| | | | | (င) ရေပေးဝေမည့်အစီအစဉ်၊ Layout Plan နှင့် ဒီဇိုင်းအားတင်ပြရန်။ | ဆောင်ရွက်ပြီး | |

## တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd. တို့၏ B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Tarchileik (Eastern Shan State), Water Supply Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးလောတာ<br>- အုပ်ချုပ်မှုဒါရိုက်တာ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - B.O.Tစနစ်ဖြင့်တာချီလိတ်မြို့တွင်းရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းနေရာ | - ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ဟွေပေးကျေးရွာအနီးရှိ မြေ (၃.၉၂)ဧကနှင့် ဖက်ဟိအပေါ်ရွာရှိမြေ (၅.၂၁)ဧက |

| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ်(သန်း) | US$ (သန်း) | စုစုပေါင်းကျပ်(သန်း) |
|---|---|---|---|---|
| | ငွေသား | ၅,၅၈၄.၀၄ | - | ၅,၅၈၄.၀၄ |
| | စက်နှင့်စက်ပစ္စည်းကိရိယာများ | - | ၂.၄၈ | ၂,၉၇၉.၄၂ |
| | အဆောက်အအုံများ | ၃၅၃.၆၃ | - | ၃၅၃.၆၃ |
| | ရုံးသုံးပစ္စည်းများ | ၁၀.၈၀ | - | ၁၀.၈၀ |
| | မော်တော်ယာဉ် | - | ၀.၃၇ | ၄၄၆.၅၈ |
| | မြေ | ၇၁.၀၀ | - | ၇၁.၀၀ |
| | ပိုက်နှင့်ဆက်စပ်ပစ္စည်း | - | ၆.၁၂ | ၇,၃၄၃.၉၀ |
| | လက်မှတ်ထိုးဆုကြေးငွေ | ၈၃.၆၃ | - | ၈၃.၆၃ |
| | **စုစုပေါင်း** | **၆,၁၀၃.၁၀** | **၈.၉၇** | **၁၆,၈၇၃.၀၀** |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၈။ | ပဏာမစူးစမ်းလေ့လာမှုကာလ | - NA |
| ၉။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်) |
| ၁၀။ | B.O.T စာချုပ်သက်တမ်း | - ၅၀နှစ် (သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်) |
| ၁၁။ | ဝန်ဆောင်မှု(၆နှစ်မြောက်) | |

| Water Production /day (Cu.M) | ရေအသုံးပြုမည့် ခန့်မှန်း လူဦးရေ/တစ်လ | အသုံးပြုသည့် ယူနစ်/တစ်လ | တစ်ယူနစ် ဈေးနှုန်း (ကျပ်) | ဝင်ငွေ (၆နှစ်မြောက်) (ကျပ်သန်း) |
|---|---|---|---|---|
| ၁၀,၀၀၀ | ၇၅,၀၀၀ | ၄ | ၅၀၀ | ၁,၈၀၀ |

| | | |
|---|---|---|
| ၁၂။ | ကုမ္ပဏီ၏(၆)နှစ်မြောက်ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၁,၈၀၀.၀၀ သန်း<br>- ကျပ် ၁,၄၇၄.၀၉ သန်း<br>- ကျပ် ၃၂၅.၉၁ သန်း |
| ၁၃။ | နိုင်ငံတော်မှရရှိမည့်အကျိုး အမြတ်(ဆ၄မ)မြောက်နှစ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၀၈.၆၄ သန်း<br>- ကျပ် ၉၀.၀၀ သန်း |

| | | |
|---|---|---|
| ၁၄။ | ဝန်ထမ်းအင်အား | - ပြည်တွင်း၄၉ဦး(တစ်လလျှင်ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၁၀,၀၀၀ ကျပ်၊ အမြင့်ဆုံး လစာမှာကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။)<br>- ပြည်ပ ခန့်ထားခြင်းမရှိပါ။ |
| ၁၅။ | အရင်းကြေကာလ | - ၂၀ နှစ် |
| ၁၆။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉.၉၁၂ % |
| ၁၇။ | ငွေကြေးအထောက်အထား | - ကမ္ဘောဇဘဏ်(တာချီလိတ်ဘဏ်ခွဲ)၌ (၈-၁-၂၀၁၇) နေ့စွဲဖြင့် တာချီလိတ်(ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတတ်မှ အုပ်ချုပ်မှု ဒါရိုက်တာ ဦးလောတာ အမည်ပါဝင်သည့် Bank Statement တွင် Closing Balance ကျပ် (-၁,၂၇၂,၆၈၁,၃၃၃.၇၆) ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၈။ | သဘောတူစာချုပ်ပါအဓိက အချက်များ | တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် ဟိန်းလင်းစံ သတ္တုတူးဖော်ရေးကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသည့်သဘောတူ စာချုပ်ပါ အဓိကအချက်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-<br>(က) ရှမ်းပြည်နယ်(အရှေ့ပိုင်း)၊ တာချီလိတ်မြို့၏ အနောက်တောင်ဘက်(၁၀)မိုင်အကွာမယ်ဆိုင်နွဲ့ချောင်းဖျားတွင် ရေကျော်ဆည် (Wier)တည်ဆောက်ပြီး၊ လွယ်တော်ခမ်း ပူးပေါင်းဂိတ်အနီးရှိ မြေနေရာတွင် ရေစစ်ကန်များတည်ဆောက်ကာ တာချီလိတ်မြို့တွင်း ရေသုံးစွဲသူများထံသို့ ရေမီတာစနစ်ဖြင့် ပိုက်လိုင်းများ သွယ်တန်းပေးပို့ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။<br>(ခ) သဘောတူစာချုပ် သက်တမ်းကာလသည် စာချုပ်ဝင်များ လက်မှတ်ရေးထိုးသည့်နေ့မှစ၍နှစ် (၅၀)ဖြစ်ပါသည်။ ယင်း သက်တမ်းကာလတွင် တည်ဆောက်ရေးကာလ အပါအဝင် ဖြစ်ပါသည်။ နှစ်(၅၀)ကုန်ပြီးနောက် နောက်ထပ် (၁၀) နှစ်စီ (၂)ကြိမ် သက်တမ်းတိုးနိုင်သည်။ **အပိုဒ်-၁(က)(ခ)**<br>(ဂ) မူလစာချုပ်ချုပ်ဆိုသည့် (၂၀-၂-၂၀၁၃) ရက်နေ့အား လုပ်ငန်းစတင်ရက်အဖြစ် သတ်မှတ်မည်ဖြစ်ပြီး လုပ်ငန်းစတင်သည့်နေ့မှ (၄)နှစ်အတွင်း ပထမပိုင်း တည်ဆောက်ရေးလုပ်ငန်းများအပြီးတည်ဆောက်ရမည်ဖြစ်သည်။ **အပိုဒ်-၄**<br>(ဃ) ပထမပိုင်းတည်ဆောက်ရေးလုပ်ငန်းများတွင်<br>(၁) သံကူကွန်ကရစ်ရေကျော်(Weir)ကိုတည်ဆောက်ခြင်း<br>(၂) ချောင်းနံဘေးတွင်လိုအပ်သော နေရာများ၌ နံရံထိန်းကျောက်စီနံရံများ တည်ဆောက်ခြင်း၊ Intake Structure ခေါ် ရေယူအဆောက်အဦတစ်စုံ တည် |

ဆောက်ခြင်း

(၃) ပိုက်သွယ်တန်းခြင်း

(၄) Water Treatment Plant Structure ပထမအဆင့်ဆောက်လုပ်ခြင်း

(၅) Junction Valve Chamber တစ်စုံ တည်ဆောက်ခြင်း

(၆) Junction Valve Chamber ပိုက်လိုင်းခွဲထုတ်သွယ်တန်းခြင်း

(၇) တာချီလိတ်မြို့နယ်စည်ပင်သာယာရေးဌာနမှ လက်ရှိမြို့ရေပေးဝေရေး ဆောင်ရွက်နေသော လုပ်ငန်းများကို လွှဲပြောင်းလက်ခံပြီး လိုအပ်သော ပြင်ဆင်မှုများပြုလုပ်၍ မြို့နယ်အရန်ရေ ပေးဝေရေးစနစ် အဖြစ်တာဝန်ယူထိန်းသိမ်းဆောင်ရွက်ခြင်း၊

(၈) ရေရယူမည့် နေအိမ်ဝင်းများအတွင်း ရေပိုက်လိုင်းများသွယ်တန်းခြင်း

( င) တာချီလိတ်မြို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို အပိုင်း(၄)ပိုင်းခွဲခြား ဆောင်ရွက်မည်ဖြစ်ပြီး ပထမပိုင်း တည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်ခွင့် ရရှိခြင်းအတွက် ငွေကျပ်(၈၃၆.၃၀) သိန်းကို လုပ်ငန်းလက်ခံသူက လုပ်ငန်းအပ်နှံသူသို့ပေးသွင်းရမည်။ မူလစာချုပ် ချုပ်ဆိုခဲ့သည့်နေ့တွင် ငွေကျပ် (၄၃၇.၆၆) သိန်းကိုပေးသွင်းပြီးဖြစ်၍ ကျန်ငွေကျပ်(၃၉၈.၆၄)သိန်းကို ပြင်ဆင်ချက်စာချုပ် ချုပ်ဆိုခဲ့သည့်နေ့တွင်ထပ်မံပေးသွင်းရမည်။ ကျန်အပိုင်းများကို ဆက်လက်ဆောင်ရွက်လျှင် အပိုင်း(၁)ပိုင်းချင်းစီအတွက် ကုန်ကျမည့်တန်ဖိုး၏(၁%)ကို ထပ်မံပေးသွင်းရမည်။ **အပိုဒ်-၄**

(စ) ဒုတိယပိုင်း၊ တတိယပိုင်း၊ စတုတ္ထပိုင်းတည်ဆောက်ရေးလုပ်ငန်းအနေဖြင့် ရေရယူမည့် ရပ်ကွက်အသီးသီးသို့ ရေသွယ်ယူမည့် ရေပိုက်လိုင်းများကိုရေသုံးစွဲသူများနှင့် ညှိနှိုင်းသွယ်တန်းခြင်းကိုဆက်လက်ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဆ) လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိသူမှ တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီသို့ လက်မှတ်ရေးထိုး ဆုကြေးငွေအဖြစ်ငွေကျပ် (၄၃.၇၆၆) သန်းကို စာချုပ်ချုပ်ဆိုသည့် နေ့တွင်ပေးသွင်းရမည်။

(ဇ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ရေမီတာတစ်လုံးလျှင်ကာလတန်ဖိုးကျသင့်ငွေဖြင့် ရေသုံးစွဲသူထံ တပ်ဆင်ပေးပြီးအသုံးပြုရေအတွက် တစ်ယူနစ်ဖြစ်သော (၁,၀၀၀) လီတာ

| | | |
|---|---|---|
| | | (သို့မဟုတ်) (၂၂၀) ဂါလန်လျှင် ကျပ် (၅၀၀) နှုန်းဖြင့် ကောက်ခံမည်ဖြစ်ပြီးပြောင်းလဲလာသောခေတ်ကာလအခြေများနှင့်အညီ လိုအပ်လာပါက ရေတစ်ယူနစ် သတ်မှတ်နှုန်းကိုလုပ်ငန်းအပ်နှံသူနှင့်လုပ်ငန်းလက်ခံသူတို့နှစ်ဖက် ညှိနှိုင်း၍ ပြင်ဆင်သတ်မှတ်ရမည်ဖြစ်သည်။<br>(ဈ) တည်ဆောက်ရေးလုပ်ငန်းများ ပြီးဆုံး၍ ရေးပေးဝေရေးလုပ်ငန်း စတင်သည့်နေ့မှစ၍ အရင်းကြေကာလအဖြစ် (၂၀)နှစ်သတ်မှတ်သည်။အရင်းကြေကာလအတွင်းလုပ်ငန်းလက်ခံသူမှ ရေသုံးစွဲခ ကောက်ခံရရှိသောဝင်ငွေ၏ (၅%) ကိုလည်းကောင်း၊ အရင်းကြေကာလကုန်ဆုံးပြီးနောက် ကျန်ကာလများအတွက် ရေသုံးစွဲခ ကောက်ခံရရှိသော ဝင်ငွေ၏ (၁၀%)ကိုလည်း ကောင်းလုပ်ငန်းအပ်နှံသူ၏ ငွေစာရင်းသို့ နှစ်စဉ် ဇန်နဝါရီလ နောက်ဆုံးပတ်အတွင်း ပေးသွင်းရမည်ဖြစ်ပါသည်။<br>(ည) လုပ်ငန်းပြီးစီး၍အပ်နှံခြင်းနှင့်စပ်လျဉ်း၍ လုပ်ငန်းလက်ခံသူမှ စာချုပ်ပါအတိုင်း မြို့ရေပေးဝေရေးလုပ်ငန်းများ စတင်ဆောင်ရွက်သည့်အချိန်မှစ၍ လုပ်ငန်းအပ်နှံသူ က လက်ရှိဆောင်ရွက်လျက်ရှိသည့် တာချီလိတ်မြို့ရေပေးဝေရေးလုပ်ငန်း(လုပ်ငန်းနှင့်ပတ်သက်သော အဆောက်အဦများ၊ စက်ကိရိယာများ၊ ရေလှောင်ကန်များ၊ ရေတာတမံနှင့်ရေယူအဆောက်အအုံများ၊ ရေဖြန့်ဝေစနစ်၊ ရေသုံးစွဲသူများစာရင်းစသည်)ကို လုပ်ငန်းလက်ခံသူသို့ စနစ်တကျလွှဲပြောင်းပေးရမည်။ |
| ၁၉။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ ၂ %၊ အသုံးပြုသွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ |
| ၂၀။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက် ရေးဆွဲတင်ပြထားပါသည်။ |
| ၂၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - လျှပ်စစ်ဓါတ်အားကို ကိုယ်ပိုင် Generator 12 KVA တပ်ဆင်အသုံးပြုမည်ဖြစ်ပါသည်။ |
| ၂၂။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၂၃။ | အခြားတင်ပြချက်များ | - အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုမည်ဆိုပါက ကန့်ကွက်ရန် မရှိကြောင်း(၁၂-၈-၂၀၁၆) ရက်စွဲဖြင့် သဘောထားမှတ်ချက် ပေးပို့ထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ တာချီလိတ်မြို့တော်စည်ပင် သာယာရေးကော်မတီမှ တာချီလိတ်မြို့ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်ရာတွင် ရှမ်းပြည်နယ်စည်ပင်သာယာရေးဌာနနှင့် ဟိန်းလင်းစံသတ္တုတူးဖော်ရေး ကုမ္ပဏီ လီမိတက်တို့သည် အကျိုးတူပူးပေါင်းဆောင်ရွက်ရန်အတွက် တောင်ကြီးမြို့၌ (၉-၉-၂၀၁၅) ရက်နေ့တွင် နှစ်ဘက်သဘောတူ ပြင်ဆင်ချက် စာချုပ်ချုပ်ဆိုခဲ့ပြီးဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်ပက်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် တာချီလိတ်မြို့ရေပေးဝေရေး လုပ်ငန်းအား တာချီလိတ်(ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတက်အမည်ဖြင့်ဆက်လက်လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ဟိန်းလင်းစံ သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်မှ တင်ပြလာခြင်းနှင့် ပက်သက်၍ (၁၅-၁-၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ် အစိုးရအဖွဲ့ဝင်၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်းအစည်းအဝေးအမှတ်စဉ် (၂-၁/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ် ၅ (သ) အရတာချီလိတ် (ရှမ်းအရှေ့) ရေပေး ဝေရေး ကုမ္ပဏီ လီမိတက်အမည်ဖြင့် ကုမ္ပဏီအမည် ပြောင်းလဲဆောင်ရွက်ခွင့်ပြုကြောင်းတင်ပြထားပါသည်။<br>- တာချီလိတ် (ရှမ်းအရှေ့) ရေပေးဝေရေး ကုမ္ပဏီလီမိတက်မှ တာချီလိတ်မြို့ ရေပေးဝေရေးဖြန့်ဖြူးရေးစီမံကိန်းလုပ်ငန်းအဖြစ် ဆောင်ရွက်လျက်ရှိသည့် တာချီလိတ်မြို့နယ်၊ လွမ်တော်ခမ်းကျေးရွာအုပ်စု၊ ပှေ့ပေးကျေးရွာအနီးတွင် (Weir and Intake Structure)လုပ်ငန်းဖြစ်သည့် ရေကျော်ဆည်လုပ်ငန်းနှင့်ရေယူအဆောက်အအုံတည်ဆောက်မည့်မြေ (၃.၉၂) ဧကသည် နိုင်ငံတော်မှ စီမံခန့်ခွဲနိုင်သည့် မြေအမျိုးအစားဖြစ်ကြောင်း၊ ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ အဆိုပါနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကန့်ကွက်ရန်မရှိကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဒေသခံများ၏ သဘောထားရယူထားကြောင်းတင်ပြထားပါသည်။<br>- တာချီလိတ် (ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတက်သည် (၄-၈-၂၀၁၅)ရက်နေ့တွင် ဖွဲ့စည်းမှတ်ပုံတင်ထားပြီး ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ MOA ၊ AOA(မိတ္တူ) နှင့် ဒါရိုက်တာစာရင်းတို့ကိုတင်ပြထားပါသည်။ |
| ၂၄။ | စိစစ်တင်ပြချက် | (က)တာချီလိတ်မြို့နယ်၊ စည်ပင်သာယာရေး ကော်မတီနှင့် ဟိန်းလင်းစံ သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် တို့သည် |

| | | |
|---|---|---|
| | | တာချီလိတ်မြို့၊ မြို့တွင်းရေပေးဝေ ဖြန့်ဖြူးရေး လုပ်ငန်း ဆောင်ရွက်မှု သဘောတူစာချုပ်အား (၂၀-၂-၂၀၁၃) ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီး (၉-၉-၂၀၁၅) ရက်နေ့တွင် ပြင်ဆင်ချက် သဘောတူစာချုပ်ချုပ်ဆိုထားကြောင်း၊ အဆိုပြုလုပ်ငန်းအား တာချီလိတ် (ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီ လီမိတက် အမည်ဖြင့် ဆက်လက်လုပ်ကိုင် ဆောင်ရွက်သွားမည်ဖြစ်၍ ကုမ္ပဏီအမည် ပြင်ဆင်ထားသည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက်တောင်းခံထားကြောင်း ရှမ်းပြည်နယ်ဥပဒေချုပ်ရုံးမှ တင်ပြထားပါသည်။<br>(ခ) ရှမ်းပြည်နယ်အစိုးအဖွဲ့မှ ဟိန်းလင်းစံသတ္တုတူးဖော်ရေးကုမ္ပဏီ လီမိတက်နှင့်ချုပ်ဆိုခဲ့သည့် တာချီလိတ်ရေပေးဝေရေးလုပ်ငန်းအား တာချီလိတ်(ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတက် အမည်ဖြင့် ဆက်လက်လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုရန် သဘောတူ ခွင့်ပြုကြောင်းတင်ပြထားပါသည်။<br>(ဂ) ကုမ္ပဏီမှ တာချီလိတ်မြို့ရှိ အောက်ဖော်ပြပါ ရပ်ကွက်ပေါင်း (၁၁)ကွက်သို့ ရေပေးဝေခြင်းနှင့် ရေမီတာခ ကောက်ခံခြင်းတို့ကို ဆောင်ရွက်မည်ဖြစ်ပါသည်-<br>(၁) ပုန်းထွန်ရပ်ကွက်<br>(၂) တာလေ့ရပ်ကွက်<br>(၃) ဝမ်းကောင်းရပ်ကွက်<br>(၄) မကာဟိုခမ်းရပ်ကွက်<br>(၅) ဆန်ဆိုင်း(က)ရပ်ကွက်<br>(၆) ဆန်ဆိုင်း(ခ)ရပ်ကွက်<br>(၇) မယ်ခေါင်ရပ်ကွက်<br>(၈) ရန်အောင်မြေရပ်ကွက်<br>(၉) ဝိန်းကျောက်ရပ်ကွက်<br>(၁၀) ပါဆတ်ရပ်ကွက်<br>(၁၁) ဟောင်လိတ်ရပ်ကွက်တို့ဖြစ်ပါသည်။<br>(ဃ)ပြည်ပမှ အောက်ဖော်ပြပါ ယာဉ်ယန္တရားများ အပါအဝင် အမေရိကန်ဒေါ်လာ ၈.၉၇၃ သန်းတန်ဖိုးရှိလုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းမည်ဖြစ်ကြောင်း စိစစ်ရပါသည်- |

| စဉ် | အမျိုးအစား | အရေအတွက်(စီးရေ) |
|---|---|---|
| ၁ | Transporter(10 wheels) | ၃ |
| ၂ | Dump Truck | ၁၁ |
| ၃ | 4 × 4 WD | ၇ |

| | | |
|---|---|---|
| | | (င) ကုမ္ပဏီ၏ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှ တင်ပြချက်အရဖော်ပြထားခြင်းသာဖြစ်ပါသည်။<br>(စ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၄ နှင့် ပုဒ်မ ၂၅ အရလုပ်ငန်းအမျိုးအစားနှင့် ရင်းနှီးမြှုပ်နှံမှုပမာဏအပေါ် မူတည်၍ ကနဦးနှစ် ၅၀ အထိခွင့်ပြုနိုင်ကြောင်းနှင့် ခွင့်ပြုထားသောသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်လုပ်ကိုင်လိုသော ရင်းနှီးမြှုပ်နှံသူအား ရင်းနှီးမြှုပ်နှံမှုပမာဏနှင့် လုပ်ငန်းအမျိုးအစားအပေါ်မူတည်၍ တစ်ဆက်တည်း သက်တမ်းတိုးခွင့် ၁၀ နှစ် နှစ်ကြိမ်တိုးမြှင့်နိုင်သည်ဟု ဖော်ပြပါရှိပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/မ-၀၁၉/၂၀၁၆(၄၄၅)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၆ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
### တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီ နှင့် Tarchileik (Eastern Shan State),Water Supply Co., Ltd. တို့မှ B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd. တို့သည် ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ဟွေပေးကျေးရွာအနီးရှိ မြေနေရာ (၃.၉၂) ဧကတွင် (Weir and Intake Structure) လုပ်ငန်းဖြစ်သည့် ရေကျော်ဆည်လုပ်ငန်းနှင့် ရေယူအဆောက်အအုံတည်ဆောက်ခြင်း၊ ဖတ်ဟိအပေါ်ရွာရှိ မြေနေရာ (၅.၂၀)ဧကတွင် (Water Treatment Plant) တည်ဆောက်ပြီး B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်နှင့်အညီ တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် ဟိန်းလင်းစံသတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက် (ယခု Tarchileik (Eastern Shan State), Water Supply Co., Ltd.) တို့ချုပ်ဆိုထားသည့် B.O.T စာချုပ်နှင့် ကုမ္ပဏီရုံးခန်းငှားရမ်းခြင်းသဘောတူစာချုပ်တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်၍ ၁၀ နှစ် နှစ်ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၈.၉၇၃ သန်း အပါအဝင် စုစုပေါင်း ၁၆,၈၇၃.၀၀ ကျပ်သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၈.၉၇၃ သန်း တန်ဘိုးရှိ လုပ်ငန်းသုံး ယာဉ်၊ ယန္တရား၊ စက်ပစ္စည်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) | US$(သန်း) | စုစုပေါင်းကျပ်(သန်း) |
|---|---|---|---|---|
| (က) | ငွေပမာဏ | ၅,၅၈၄.၀၄၃ | - | ၅,၅၈၄.၀၄၃ |
| (ခ) | စက်ပစ္စည်းတန်ဖိုးပမာဏ | - | ၂.၄၈၂ | ၂,၉၇၉.၄၂၁ |
| (ဂ) | အဆောက်အအုံ | ၃၅၃.၆၂၆ | - | ၃၅၃.၆၂၆ |
| (ဃ) | လုပ်ငန်းသုံးပစ္စည်းများ | ၁၀.၈၀၀ | - | ၁၀.၈၀၀ |
| (င) | မော်တော်ယာဉ်များ | - | ၀.၃၇၂ | ၄၄၆.၅၈၄ |
| (စ) | မြေ | ၇၁.၀၀၀ | - | ၇၁.၀၀၀ |
| (ဆ) | ပိုက်နှင့်ဆက်စပ်ပစ္စည်းများ | - | ၆.၁၁၉ | ၇,၃၄၃.၈၉၆ |
| (ဇ) | လက်မှတ်ထိုးသည့်အတွက်ဆုကြေး | ၈၃.၆၃၀ | - | ၈၃.၆၃၀ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၆,၁၀၃.၀၉၉ | ၈.၉၇၃ | ၁၆,၈၇၃.၀၀၀ |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၄၉)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၁၀,၀၀၀ ကျပ် ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၅။ အဆိုပြုလုပ်ငန်းမှ တစ်နေ့လျှင် ရေ ကုဗမီတာ ၁၀,၀၀၀ ဖြန့်ဖြူးပေးမည်ဖြစ်၍ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ခန့်မှန်းရေဝယ်ယူမည့် လူဦးရေ၊ တစ်လအသုံးပြုမည့်ယူနစ် နှင့် ဝန်ဆောင်ခနှုန်း(ကျပ်) တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ရေအသုံးပြုမည့်ခန့်မှန်း လူဦးရေ/တစ်လ | အသုံးပြုသည့် ယူနစ် /တစ်လ | တစ်ယူနစ် ဈေးနှုန်း(ကျပ်) | ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) (ကျပ်သန်း) |
|---|---|---|---|
| ၇၅,၀၀၀ | ၄ | ၅၀၀ | ၁,၈၀၀ |

၆။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | (ကျပ်သန်း) |
|---|---|
| - ဝင်ငွေ | ၁,၈၀၀.၀၀ |
| - အသုံးစရိတ် | ၁,၄၇၄.၀၉ |
| - အသားတင်အမြတ် | ၃၂၅.၉၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၀၈.၆၄ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၉၀.၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၂၀)နှစ် ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၉.၉၁၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

Tachileik (Eastern Shan State) Water Supply Co., Ltd. မှ B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်း နှင့်ပတ်သက်၍ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ၉-၈-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၂-၈/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် ၅(ဘ) အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

Tachileik (Eastern Shan State) Water Supply Co., Ltd. မှ B.O.T စနစ်ဖြင့် တာချီလိတ် မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းနှင့် လုပ်ငန်းနှင့် ပတ်သက်၍ တည်ဆောက်မည့် Weir ၏ အမြင့်မှာ (၂) မီတာ ရှိပြီး Back Water Effect သက်ရောက်နိုင်မည့် အကွာအဝေးရှိ ကမ်းပါးသည် မြင့်မားသောကမ်းနှင့် တောင်ကုန်းများသာရှိနေသဖြင့် ရေကြီးရေလျှံမှုအတွက် အကျိုးသက်ရောက်မှု မရှိနိုင်ပါသောကြောင့် ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Scocial Responsibility –CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အဆိုပြုလွှာတွင် တင်ပြထားသည့်အတိုင်း ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental & Social Impact Assessment-ESIA)အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များ နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှင့်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ESIA အစီရင်ခံစာရေးဆွဲတင်ပြထားပြီး ပတ်ဝန်းကျင် ထိန်းသိမ်း**

**ရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြထား ပါသည်။)**

၉။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank (Tachileik) ဘဏ်ခွဲ၌ မန်နေဂျင်း ဒါရိုက်တာ ဦးလောတာ အမည်ပါဝင်သည့် Bank Statement တွင် ၂၀၁၆ ခုနှစ်၊ ဇွန် လ ၈ ရက်နေ့ ရက်စွဲဖြင့် ကျပ်(-၁၂,၇၂၃,၆၈၁,၃၃၃.၇၆) ရှိကြောင်း တင်ပြထားပါသည်။

၁၀။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မြို့နယ်မီးသတ်ဦးစီးဌာန၏ လမ်းညွှန်ချက် အတိုင်းလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ အရေးကြီး သည့်နေရာများတွင် အလိုအလျောက်မီးငြိမ်းစေမည့် Auto Fair Ball, Sprinkler Smoke Detector များတပ်ဆင်ခြင်းတို့နှင့် ဝန်ထမ်းများအား မီးသတ်သင်တန်းပေးခြင်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ တင်သွင်းမည့် စက်ပစ္စည်းများ၏ နမူနာပုံစံ၊ အလုပ်သမားသက်သာ ချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်မည့်အစီအစဉ်၊ စက်ရုံဝန်ထမ်းများအတွက် လစာ ဝင်ငွေခွန် ပေးဆောင်မည့် အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှု ဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် နှစ်စဉ်အသားတင် အမြတ် ၏ ၂ % ထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဇွန် လ ၂၀ ရက်နေ့ တွင် ကျင်းပပြုလုပ်သော (၂၃/၂၀၁၆)အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ (က) တာချီလိတ်မြို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို အပိုင်း(၄) ပိုင်းခွဲခြား ဆောင်ရွက် မည်ဖြစ်ပြီး ပထမပိုင်း တည်ဆောက်ရေးလုပ်ငန်း ဆောင်ရွက်ခွင့် ရရှိခြင်းအတွက် ငွေကျပ်(၈၃၆.၃၀)သိန်းကို ကုမ္ပဏီမှ တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီ သို့ပေးသွင်းပြီးဖြစ်ကြောင်း၊ ကျန်အပိုင်းများကို ဆက်လက် ဆောင်ရွက်လျှင် အပိုင်း(၁) ပိုင်းချင်းစီအတွက် ကုန်ကျမည့်တန်ဖိုး၏(၁%)ကို ထပ်မံပေးသွင်းရမည်ဖြစ်ပါသည်။

(ခ) ကုမ္ပဏီမှ ရေမီတာတစ်လုံးလျှင် ကာလတန်ဖိုး ကျသင့်ငွေဖြင့် ရေသုံးစွဲသူထံ တပ်ဆင် ပေးပြီး အသုံးပြုရေအတွက် တစ်ယူနစ်ဖြစ်သော (၁,၀၀၀) လီတာ (သို့မဟုတ်) (၂၂၀) ဂါလန်လျှင် ကျပ် (၅၀၀) နှုန်းဖြင့် ကောက်ခံမည်ဖြစ်ပြီး ပြောင်းလဲလာသောခေတ် ကာလအခြေအနေနှင့်အညီ လိုအပ်လာပါက ရေတစ်ယူနစ် သတ်မှတ်နှုန်းကို နှစ်ဖက် ညှိနှိုင်း၍ ပြင်ဆင်သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) ရေပေးဝေရေးလုပ်ငန်း စတင်သည့်နေ့မှစ၍ အရင်းကြေကာလမှာ (၂၀)နှစ်ဖြစ်၍ သတ်မှတ်အရင်းကြေကာလအတွင်း ကုမ္ပဏီမှ ရေသုံးစွဲခ ကောက်ခံရရှိသောဝင်ငွေ၏ (၅%) ကိုလည်းကောင်း၊ အရင်းကြေကာလ ကုန်ဆုံးပြီးနောက် ကျန်ကာလများအတွက် ရေသုံးစွဲခ ကောက်ခံရရှိသော ဝင်ငွေ၏ (၁၀%)ကိုလည်း တာချီလိတ်မြို့နယ်စည်ပင်

(ဃ) လုပ်ငန်းပြီးစီး၍ အပ်နှံခြင်းနှင့်စပ်လျဉ်း၍ ကုမ္ပဏီမှ လုပ်ငန်းသဘောတူစာချုပ်ပါ အတိုင်း မြို့ရေပေးဝေရေးလုပ်ငန်းများ စတင်ဆောင်ရွက်သည့် အချိန်မှစ၍ ဆောင်ရွက်လျက်ရှိသည့် တာချီလိတ်မြို့ ရေပေးဝေရေးလုပ်ငန်း (လုပ်ငန်းနှင့် ပတ်သက်သော အဆောက်အဦများ၊ စက်ကိရိယာများ၊ ရေလှောင်ကန်များ၊ ရေတာတမံနှင့် ရေယူအဆောက်အအုံများ၊ ရေဖြန့်ဝေစနစ်၊ ရေသုံးစွဲသူများစာရင်းစသည်)ကို တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီသို့ လွှဲပြောင်းပေးမည်ဖြစ်ပါသည်။

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာ နှင့်စပ်လျဉ်း၍ ရေကျော်ဆည် နှင့် ရေယူအဆောက်အအုံ တည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်မည့် မြေ (၃.၉၂) ဧကအား ဒေါ်အားချာထံမှ ဟိန်းလင်းစံ ကုမ္ပဏီကဝယ်ယူထားကြောင်း၊ Water Treatment Plant တည်ဆောက်မည့် မြေဧရိယာ (၅.၂၂)ဧကသည် ကွင်းပြင်ဒေသ၊ ဥယျာဉ်ခြံမြေ၍ ဦးလီးဖီးထံမှ ဟိန်းလင်းစံကုမ္ပဏီက ဝယ်ယူထား ကြောင်း၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် နေရာများသည် ကွင်းပြင်ဒေသဖြစ်ပြီး စိုက်ပျိုးခြင်း မပြုနိုင်သည့် ချောင်းမြေနှင့် ကျန်အခြားမြေဖြစ်၍ နိုင်ငံတော်မှ စီမံခန့်ခွဲနိုင်သည့်မြေဖြစ်ကြောင်း၊ ကုမ္ပဏီမှ ရေပေးဝေဖြန့်ဖြူးရေး စီမံကိန်းအတွက် အဆိုပါ မြေနေရာ အသုံးပြုခွင့်ရရှိရေးအတွက် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနသို့ မြေအသုံးပြုခွင့် တင်ပြထားပါသည်။

(စ) ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် အဆိုပါနေရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ကုမ္ပဏီမှ စီမံကိန်းစတင်မဆောင်ရွက်မီ ၂၀၁၂ ခုနှစ်၊ မြေယာလျှောက်ထားမှုတင်ပြစဉ်ကလည်းကောင်း၊ စီမံကိန်းစတင်ဆောင်ရွက်သည့် (၂၀-၃-၂၀၁၃)ရက် နေ့မှ ယနေ့အချိန်ထိ ဒေသခံပြည်သူများမှ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့နှင့်ပတ်သက်၍ ကန့်ကွက်ခြင်း မရှိခဲ့ကြောင်း၊ ဆောင်ရွက်မည့်နေရာများသည် ကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တောများနှင့် လွတ်ကင်းမှုရှိကြောင်း၊ ဒေသခံပြည်သူများမှ လက်ရှိ ရေပေးဝေရေးလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် လက်ခံနိုင်မှု ရှိပါကြောင်း တင်ပြထားပါသည်။

(ဆ) တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးရေးလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် ဟိန်းလင်းစံ သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်တို့သည် လုပ်ငန်းဆောင်ရွက်မှု သဘောတူစာချုပ်အား ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ (၂၀-၂-၂၀၁၃) ရက်နေ့တွင် ချုပ်ဆိုခဲ့ကြောင်း၊ (၉-၉-၂၀၁၅) ရက်နေ့တွင် ပြင်ဆင်ချက် သဘောတူစာချုပ် ချုပ်ဆိုခဲ့ပြီး အဆိုပြုလုပ်ငန်းအား တာချီလိတ်(ရှမ်းအရှေ့)ရေပေးဝေရေးကုမ္ပဏီလီမိတက် အမည်ဖြင့် ဆက်လက်လုပ်ကိုင်ဆောင်ရွက်သွားမည်ဖြစ်၍ ကုမ္ပဏီအမည် ပြင်ဆင်ထားသည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)အား ရှမ်းပြည်နယ်ဥပဒေချုပ်ရုံးမှ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ထပ်မံပေးပို့၍ သဘောထားမှတ်ချက်တောင်းခံထားကြောင်း တင်ပြထားပါသည်။

စုရှေ့နေချုပ်ရုံးသို့ ထပ်မံပေးပို့၍ သဘောထားမှတ်ချက်တောင်းခံထားကြောင်း တင်ပြထားပါသည်။

(၁၃) ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၁ ရက်နေ့ရက်စွဲဖြင့် ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ ဟိန်းလင်းစံ သတ္တုတူးဖော်ရေး ကုမ္ပဏီလီမိတက်နှင့် ချုပ်ဆိုခဲ့သည့် တာချီလိတ်ရေပေးဝေရေး လုပ်ငန်းအား တာချီလိတ် (ရှမ်းအရှေ့) ရေပေးဝေရေးကုမ္ပဏီလီမိတက် အမည်ဖြင့် ဆက်လက်လုပ်ကိုင် ဆောင်ရွက်ခွင့်ပြုရန် သဘောတူခွင့်ပြုကြောင်း တင်ပြထားပါသည်။

(၁၄) ပြည်ပမှ အောက်ဖော်ပြပါ ယာဉ်ယန္တရားများ အပါအဝင် အမေရိကန်ဒေါ်လာ ၈.၉၇၃ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး လူစီးမော်တော်ယာဉ်များအား အခွန်ပေးဆောင် တင်သွင်းရမည်ဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက်(စီးရေ) | ဈေးနှုန်း(US$) | စုစုပေါင်းတန်ဖိုး |
|---|---|---|---|
| Transporter(10 wheels) | ၃ | ၂၇,၄၃၁ | ၈၂,၂၉၃ |
| Dump Truck | ၁၁ | ၂၀,၄၂၀ | ၂၂၄,၆၂၀ |
| 4 × 4 WD | ၇ | ၉,၃၂၀ | ၆၅,၂၄၀ |

**ဆုံးဖြတ်ရန်အချက်**

၁၅။ တာချီလိတ်မြို့နယ် စည်ပင်သာယာရေးကော်မတီနှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd. တို့မှ ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့တွင် B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်း ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၈၆၈၀/၇ - ၂၁၆ / အစရ( ရှမ်း)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဩဂုတ်လ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၁.၇.၂၀၁၆ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/မ-၀၁၉/၂၀၁၆(၃၇၇)



၁။ တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Tarchileik (Easten Shan State) , Water Supply Co,ltd တို့သည် တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ဟွေပေးကျေးရွာအနီးရှိ နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေဧရိယာ(၃.၂၉)ဧကတွင် (Weir and Intake Structure)လုပ်ငန်းဖြစ်သည့် ရေကျော်ဆည်တည်ဆောက်ခြင်းလုပ်ငန်းနှင့် ရေယူအဆောက်အအုံ တည်ဆောက်ခြင်း၊ ဖတ်ဟိအပေါ်ရွာရှိ ဥယျာဉ်ခြံမြေဧရိယာ(၅.၁၂)ဧကတွင် (Water Treatment Plant) တည်ဆောက်ပြီး B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက် ခွင့်ပြုပါရန် ရှမ်းပြည်နယ်စည်ပင်သာယာရေးကော်မတီမှတစ်ဆင့် Tarchileik (Easten Shan State) , Water Supply Co,ltdမှ အဆိုပြုတင်ပြလာခြင်းအပေါ် အောက်ပါအချက်များနှင့်ပတ်သက်၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။

(ခ) ပြည်သူတို့၏လူမှုစီးပွားကို ထိခိုက်နိုင်မှုရှိ/မရှိ။

(ဂ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။

(ဃ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(င) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဟုတ်/မဟုတ်။

(စ) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သုံးသပ်အကြံပြုချက်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ တာချီလိတ်မြို့မှ ၂၇.၇.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၅/၄၂-၁၇/ဦး ၆ (ခရိုင်စီ/ခန့်)ဖြင့် အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ။** Tarchileik (Easten Shan State) , Water Supply Co,ltd သည် တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ပွေပေါးကျေးရွာအနီးရှိ နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေဧရိယာ(၃.၂၉) ဧက တွင် (Weir and Intake Structure)လုပ်ငန်းဖြစ်သည့် ရေကျော်ဆည်တည်ဆောက်ခြင်းလုပ်ငန်းနှင့် ရေယူအဆောက်အအုံ တည်ဆောက်ခြင်း၊ ဖတ်ဟိအပေါ်ရွာရှိ ဥယျာဉ်ခြံမြေဧရိယာ(၅.၁၂)ဧကတွင် (Water Treatment Plant) တည်ဆောက်ခြင်းတို့ပြုလုပ်ပြီး ရေအရင်းအမြစ်ဖြစ်သည့် မြို့၏အနောက်ဘက် ၉ မိုင်ခန့်ရှိ ဖလဲတောင်ခြေ၊ မဲဆိုင်နွဲချောင်းရေအား ရေအရင်းအမြစ်ရယူပြီး မြို့ရေပေးဝေရေးလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။ ရေကျော်ဆည်ရေယူအဆောက်အဦ (Water Treatment Plant)တည်ဆောက်ခြင်းတို့ ပြုလုပ်မည့်နေရာများသည် လက်ရှိ မြို့မြေဧရိယာအတွင်းပါဝင်မှုမရှိသည့်အတွက် ယင်းနေရာများသည် လက်ရှိမြို့ဧရိယာ(၉)မိုင်ခန့် အလှမ်းကွာဝေးခြင်းတို့ကြောင့် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိပါ။ နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအရလည်း ယင်းဧရိယာများသည် တောင်ကုန်း၊တောင်စောင်း၊လျှိုမြောင်းများရှိသည့်အတွက် မြို့ပြစီမံကိန်းဧရိယာအတွင်းထည့်သွင်းရေးဆွဲရန် အစီအစဉ်မရှိသည့်အတွက် နောင်လာမည့်မြို့ပြစီမံကိန်းကိုလည်းထိခိုက်မှုမရှိပါကြောင်း၊

(ခ) **ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုရှိ/မရှိ။** Tarchileik (Easten Shan State) Water Supply Co;Ltd မှ တာချီလိတ်မြို့တွင်း ရေပေးဝေရေးလုပ်ငန်းအား သဘာဝအားသုံးအလိုအလျောက် စီးဆင်းစေသော စနစ်ဖြင့် ဖြန့်ဝေပေးခြင်း၊ သဘာဝရေအရင်းအမြစ်မှ သန့်စင်၍ သန့်ရှင်းသောရေအား ဖြန့်ဖြူးမည်ဖြစ်သဖြင့် ပြည်သူတို့၏ ကျန်းမာရေး၊ လူမှုရေးအား ထိခိုက်နိုင်မှုမရှိပါ။ စက်ရုံများတည်ဆောက်မည့်နေရာများ၊ပိုက်လိုင်းသွယ်ယူမည့်နေရာများသည် ဒေသခံပြည်သူများ၏ စိုက်ပျိုးလုပ်ကိုင်သည့် ဧရိယာများနှင့် ကင်းလွတ်မှုရှိသဖြင့် ဒေသခံပြည်သူများ၏ အကျိုးစီးပွားရေးကိုလည်း ထိခိုက်မှုမရှိပါကြောင်း၊

(ဂ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်/မဖြစ်။** Tarchileik (Easten Shan State) Water Supply Co;Ltd မှ မြို့တွင်းရေပေးဝေရေးလုပ်ငန်းများစတင်ဆောင်ရွက်နေစဉ် ကာလအတွင်း ပညာရှင်များ၊ ဝန်ထမ်းများ၊ နေ့စား၊ လစားအလုပ်သမားများဖြင့်

ဆောင်ရွက်လျက်ရှိခြင်း၊ နောင်ရေဖြန့်ဖြူးခြင်းလုပ်ငန်းများဆောင်ရွက်ရာ၌လည်း လုပ်ငန်းလိုအပ်ချက်အရ ဝန်ထမ်းအများအပြား လိုအပ်လာမည်ဖြစ်ခြင်း၊ ရေဖြန့်ဖြူးခြင်း လုပ်ငန်းနှင့်ဆက်နွယ်သည့် စီးပွားရေးဆောင့်ပွားလုပ်ငန်းများ ပေါ်ပေါက်လာနိုင်ခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအား အထောက်အကူဖြစ်စေပါကြောင်း၊

(ဃ) **ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ**။ Tarchileik (Easten Shan State) Water Supply Co;Ltd သည် စီမံကိန်းလုပ်ငန်းစတင် မဆောင်ရွက်မီ ၂၀၁၂ ခုနှစ် မြေယာလျှောက်ထားမှု တင်ပြစဉ်ကလည်းကောင်း၊စီမံကိန်းလုပ်ငန်းစတင်ဆောင်ရွက်သည့် (၂၀.၃.၂၀၁၃) ရက်နေ့မှ ယနေ့အချိန်ထိ လည်းကောင်း၊ ဒေသခံပြည်သူများမှ လူမှုရေး၊စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့နှင့်ပတ်သက်၍ တစ်စုံတစ်ရာကန့်ကွက်ခဲ့ခြင်း မရှိကြောင်း စိစစ်သိရှိရပါသည်။ ၎င်းအပြင် မြေရာဇဝင်စိစစ်တင်ပြစဉ်က ဆောင်ရွက်မည့်နေရာများသည် ကြိုးဝိုင်း၊ ကြိုးပြင် ကာကွယ်တောများနှင့် လွတ်ကင်းမှုရှိကြောင်း တင်ပြထားရှိပြီးဖြစ်ခြင်း၊ ရေကျော်ဆည်နှင့်ရေယူ အဆောက်အဦတည်ဆောက်မည့်နေရာအနီး ကုမ္ပဏီမှရေဝေရေလဲတောဧရိယာ အဖြစ်(၇၀၀)ဧကခန့်အား ထိန်းသိမ်းစောင့်ရှောက်ရေးလုပ်ငန်းအစီအစဉ်ပါရှိခြင်း တို့ကြောင့် ဒေသခံပြည်သူများမှ လက်ရှိရေပေးဝေရေးလုပ်ငန်းဆောင်ရွက်ခြင်း အပေါ် လက်ခံနိုင်မှုရှိပါကြောင်း၊

(င) **လုပ်ငန်းဆောင်ရွက်နိုင်မည့်မြေနေရာဟုတ်/မဟုတ်**။ Tarchileik (Easten Shan State) Water Supply Co;Ltd မှ ရေကျော်ဆည်တည်ဆောက်ခြင်းနှင့်ရေယူ အဆောက်အဦတည်ဆောက်ခြင်းလုပ်ငန်းအား (၁၀၀)ရာခိုင်နှုန်းဆောင်ရွက်ပြီးစီး ပြီးဖြစ်ခြင်း၊(Water Treatmant Plant ) တည်ဆောက်ခြင်းလုပ်ငန်းအား(၆၀) ရာခိုင်နှုန်း ဆောင်ရွက်ပြီးစီးပြီးဖြစ်၍ လုပ်ငန်းများ အောင်မြင်သည်အထိ ဆောင်ရွက်နိုင်မည့်နေရာဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ရှမ်းပြည်နယ်အစိုးရအနေဖြင့် Tarchileik (Easten Shan State) Water Supply Co;Ltdမှရေပေးဝေရေးလုပ်ငန်းနှင့်ပတ်သက်၍အောက်ပါအတိုင်းအကြံပြုသုံးသပ်တင်ပြအပ်ပါသည်-

(က) Tarchileik (Easten Shan State) Water Supply Co;Ltd မြို့ရေပေးဝေရေး လုပ်ငန်းဆောင်ရွက်မည့်နေရာများသည် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိဘဲ သဘာဝဖိအားသုံး အလိုလျောက်စီးဆင်းစေသော စနစ် အား အသုံးပြုကာ လုပ်ငန်းဆောင်ရွက်မည်ဖြစ်၍ စက်ယန္တရားကြီးများအား

အသုံးပြုပြီးနေ့စဉ်လည်ပတ်မှုကြောင့် ဖြစ်ပေါ်လာမည့် ဆူညံမှုများ၊ အနံ့ဆိုးများ မှ ကင်းဝေးသည့်အတွက် ပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုမရှိနိုင်ကြောင်း၊

(ခ) ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် လူမှုစီးပွားရေးကို ထိခိုက်နိုင်မှုမရှိဘဲ သဘာဝစီးဆင်းလျက်ရှိသော ရေအရင်းအမြစ်အား သန့်စင်ပြီး ပြန်လည်ဖြန့်ဖြူး ပေးမည့် အစီအစဉ်ဖြစ်၍ ဒေသခံ ပြည်သူများအနေဖြင့် သန့်ရှင်းသော သောက်ရေ/ သုံးရေ ရရှိစေနိုင်ခြင်းတို့ကြောင့် ပြည်သူတို့၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း မရှိကြောင်း၊

(ဂ) မြို့ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်ရာတွင် လိုအပ်သော ဝန်ထမ်းများ၊ နေ့စား၊ လစားဝန်ထမ်းများ ခန့်ထားခြင်းဖြင့် ဒေသနေပြည်သူများသို့ အလုပ်အကိုင် အခွင့်အလမ်းများပေးနိုင်ခြင်း၊လုပ်ငန်းတစ်ခုလုံးပြီးစီးပါကကုမ္ပဏီမှ ပထမအဆင့် အနေဖြင့် လူဦးရေ ၁ သိန်းအတွက် ရေမပမာဏ ဒေသစံနှုန်းဖြင့်ရေ ဂါလံ ၂ သန်း မီးငြိမ်းသတ်ရေးနှင့်အရေးပေါ် လိုအပ်ချက်များအတွက် အရံရေဂါလံ (၀.၀၂)သန်း ဖြန့်ဖြူးပေးနိုင်မည် ဖြစ်သည့်အတွက် တာချီလိတ်မြို့လူထု လူဦးရေ(၄၅၂၈၁) အတွက်ရေဖူလုံမှုရာခိုင်နှုန်း ၂၂၀.၈၄ ဖြစ်ပေါ်လာနိုင်သဖြင့် လူထုနှင့်ပတ်သက်ပြီး ရေရှားပါးမှုအန္တရာယ်၊ မီးဘေးလုံခြုံရေးအတွက်မှ ကင်းဝေးနိုင်မည်ဖြစ်သည့် အတွက်ဒေသနေပြည်သူများလူမှုစီးပွားဘဝဖွံ့ဖြိုးတိုးတက်လာနိုင်မည်ဖြစ်ကြောင်း

(ဃ) ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်မှုအပေါ် ဒေသခံများအနေဖြင့် လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်း၊Tarchileik (Easten Shan State) Water Supply Co;Ltd မှ ရေပေးဝေရေးလုပ်ငန်းဆောင်ရွက်မည့် တင်ပြပါမြေနေရာသည် လုပ်ငန်းဆောင်ရွက်ရန်အတွက် သင့်တော်သည့် မြေနေရာ/ အကျယ်အဝန်းဖြစ်ခြင်းတို့ကြောင့် ရေပေးဝေရေးလုပ်ငန်းအား မြန်မာနိုင်ငံသား များရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ကုမ္ပဏီအနေဖြင့် သွင်းကုန်၊ ထုတ်ကုန်လုပ်ငန်းများ အဆင်ပြေချောမွေ့လာစေနိုင်ခြင်း၊ လက်ရှိ ဆောင်ရွက်နေသည့် စီမံကိန်းလုပ်ငန်းများ သတ်မှတ်ကာလအတွင်း အချိန်စောစွာ ပြီးစီးလာစေနိုင်ခြင်း၊ လုပ်ငန်းများပြီးစီးပါက ဒေသခံပြည်သူများ၏ အလုပ်အကိုင် အခွင့်အလမ်းသစ်များ ဖြစ်ပေါ်လာစေနိုင်ခြင်း၊ တာချီလိတ်မြို့၏ လူမှုစီးပွားဘဝ ဖွံ့ဖြိုးတိုးတက်လာစေနိုင်ကြောင်း၊

၄။ သို့ဖြစ်ပါ၍ Tarchileik (Easten Shan State) Water Supply Co;Ltd မှ B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေ ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်းနှင့်ပတ်သက်၍ ဒေသခံ များက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ လုပ်ကိုင်ဆောင်ရွက်

ခွင့်ပြုမည်ဆိုပါက ၉.၈.၂၀၁၆ရက်တွင် ကျင်းပပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန် အစည်းအဝေးအမှတ်စဉ် (၂-၈/၂၀၁၆)ဆုံးဖြတ်ချက် အပိုဒ် ၅(ဘ) အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

12/8/16

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

( စိုင်းလုံကျော်၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး )

မိတ္တူကို

ရှမ်းပြည်နယ်ဒုတိယအထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျိုင်းတုံမြို့

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ တာချီလိတ်မြို့

လက်ခံစာတွဲ/မျှောစာတွဲ

M4-817
8.8.16

ဝန်ကြီးရုံး

နောက်ဆက်တွဲ(ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ပဆ-(၃)/(သဘောထား-DWIR)/၂၀၁၆(၃၇)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင်လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၆-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက- ၅ (အ) / မ-၀၁၉ / ၂၀၁၆ (၃၅၂)

(၂) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန၏(၂၉.၆.၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ပဆ - (၃) / (သဘောထား-DWIR)/၂၀၁၆(၁၄၀)

(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁.၇.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/မ-၀၁၉/၂၀၁၆(၃၇၆)

(၄) တာချီလိတ်(ရှမ်းအရှေ့)ရေပေးဝေရေး ကုမ္ပဏီလီမိတက်၏ (၁၄.၇.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၈ / တခလ / ရပ၀ရ / ၂၀၁၆

ရ-957
5-8-16

တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီ နှင့် Tarchileik (Eastern Shan State), Water Supply Co., Ltd. တို့မှ ရှမ်းပြည်နယ်၊ တာချီလိတ်မြို့နယ်၊ လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ဟွေပေါးကျေးရွာအနီးရှိ နိုင်ငံတော်က စီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေဧရိယာ (၃.၉၂)ဧကတွင် (Weir and Intake Structure) လုပ်ငန်းဖြစ်သည့် ရေကျော်ဆည် တည်ဆောက်ခြင်းလုပ်ငန်းနှင့် ရေယူအဆောက်အအုံ တည်ဆောက်ခြင်း၊ ဖက်ဟိအပေါ်ရွာရှိ ဥယျာဉ်ခြံမြေဧရိယာ(၅.၂၁)ဧကတွင် (Water Treatment Plant) တည်ဆောက်ပြီး B.O.T စနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်း လုပ်ငန်းနှင့် ပတ်သက်၍ တည်ဆောက်မည့် Weir ၏ အမြင့်မှာ (၂)မီတာရှိပြီး Back Water Effect သက်ရောက်နိုင်မည့် အကွာအဝေးရှိ ကမ်းပါးသည် မြင့်မားသောကမ်းနှင့် တောင်ကုန်းများသာရှိနေသဖြင့် ရေကြီးရေလျှံမှုအတွက် အကျိုးသက်ရောက်မှုမရှိနိုင်ပါသောကြောင့် ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
သက်ထွန်း - ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူကို -

- ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီ
- Tarchileik (Eastern Shan State), Water Supply Co., Ltd.

နောက်ဆက်တွဲ(ဂ)

M4-720
30.6.16

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဂဂ၁/ MIC(OSS) /ဝ၁(၁၈၈ / ၁၆ )
ရက် စွဲ ၊၂၀၁၆ခုနှစ် ဇူလိုင် လ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Tarchileik (Eastern Shan State), Water Supply Co.,Ltd မှ B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၆-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-၀၁၉/ ၂၀၁၆(၃၄၅)

၁။ တာချီလိတ်မြို့နယ်စည်ပင်သာယာရေးကော်မတီနှင့် Tarchileik (Eastern Shan State),Water Supply Co.,Ltdတို့သည် ရှမ်းပြည်နယ်၊ တာချီလိတ်ခရိုင်၊ တာချီလိတ်မြို့နယ် လွယ်တော်ခမ်းကျေးရွာအုပ်စု၊ ဟွေပေါးကျေးရွာအနီးရှိ၊ နိုင်ငံတော်ကစီမံခန့်ခွဲပိုင်ခွင့်ရှိသည့် မြေဧရိယာ (၃.၉၂)ဧကတွင် (Weirand Intake Structure)လုပ်ငန်းဖြစ်သည့် ရေကျော်တည်ဆောက်ခြင်းလုပ်ငန်းနှင့် ရေယူအဆောက်အအုံတည်ဆောက်ခြင်း၊ ဖက်ဟိအပေါ်ရွာရှိ ဉယျာဉ်ခြံမြေဧရိယာ(၅.၂၁)ဧကတွင် (Water Treatment Plant)တည်ဆောက်ပြီး B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)အား လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate

Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း (Environmental & Social Impact Assessment-ESIA) အား Green Myanmar Environmental Services Co.,Ltd နှင့် အပ်နှံလုပ်ဆောင်လျက်ရှိကြောင်းဖော်ပြပါရှိပါသည်။

၃။ Tarchileik (Eastern Shan State), Water Supply Co.,Ltdမှ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် ဆည်တည်ဆောက်ခြင်းနှင့် ရေယူအဆောက်အဦတည်ဆောက်ခြင်းလုပ်ငန်းများကြောင့် မယ်ဆိုင်ချောင်း၏ရေစီးခံနှင့်ခွဲမှုနှင့်ရေဂေဟစနစ်များထိခိုက်ပျက်စီးစေနိုင်ခြင်း၊ ရေမြုပ်ဧရိယာအတွင်းရှိ သစ်ပင်သစ်တောများ၊ လယ်မြေများ၊ ဂေဟစနစ်များထိခိုက်ပျက်စီးစေနိုင်ခြင်း၊ မြို့တွင်းရေပေးဝေခြင်းအတွက် ရေပိုက်များသွယ်တန်းရာတွင် လူနေရပ်ကွက်များ၊ ကာလမ်းများအားဖြတ်သန်းဖောက်လုပ်ရမည်ဖြစ်ပြီး၊ ဘုရားပုထိုးစေတီသာသနိကအဆောက်အအုံများ၊ ယဉ်ကျေးမှုအမွေအနှစ်များအားထိခိုက်အကျိုးသက်ရောက်စေနိုင်ခြင်း၊ ရေအရင်းအမြစ်ရယူမည့်မယ်ဆိုင်ချောင်း၏ရေအရည်အသွေးအား ပုံမှန်စစ်ဆေးမှုမရှိခြင်းနှင့်ရေသန့်စင်စက်ရုံများတွင် စံချိန်စံညွှန်းပြည့်မှီအောင် စနစ်တကျသန့်စင်ခြင်းများဆောင်ရွက်ခြင်းမရှိပါက ပြည်သူလူထု၏ကျန်းမာရေးအား ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Tarchileik (Eastern Shan State), Water Supply Co.,Ltd မှ B.O.Tစနစ်ဖြင့် တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့်လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား

အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အဆိုပြုလွှာတွင် တင်ပြထားသည့် အတိုင်း ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုဆန်းစစ်ခြင်း ( Environmental & Social Impact Assessment-ESIA)အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသား တင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့် ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan - **EMP** )အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင် အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ် နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်း ညွှန်ချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူ များ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Tarchileik (Eastern Shan State), Water Supply Co., Ltd. | (၁) ဦးလောတာ ဥက္ကဋ္ဌ ၁၃/တခလ (နိုင်) ၀၂၅၉၅၉ | အမှတ် (၁/၃)၊ စိန်ပန်းလမ်း၊ ဝမ်းကောင်းရပ်ကွက်၊ တာချီလိတ် မြို့နယ်၊ ရှမ်းပြည်နယ်အရှေ့ပိုင်း |
| | | (၂) ဦးချစ်ဂျော့ မန်နေဂျင်းဒါရိုက်တာ ၁၃/တခလ (နိုင်) ၀၂၆၄၅၁ | စန်းလုအပေါ်ရွာ၊ လွယ်တော်ခမ်းအုပ်စု၊ တာချီလိတ်မြို့နယ်၊ ရှမ်းပြည်နယ်အရှေ့ပိုင်း |
| | | (၃) ဦးလီထူ ဒါရိုက်တာ ၁၃/တခလ (နိုင်) ၀၁၄၅၀၅ | အမှတ် (၃/၁၅)၊ ဂေါက်ကွင်းလမ်း၊ ဆမ်းဆိုင်းအောက်ရပ်ကွက်၊တာချီလိတ်မြို့နယ်၊ရှမ်းပြည်နယ်အရှေ့ပိုင်း |
| | | (၄) ဦးလီဖိး ဒါရိုက်တာ ၁၃/တခလ (နိုင်) ၀၅၄၆၆၆ | အမှတ် (၃/၁၂)၊ ဂေါက်ကွင်းလမ်း၊ ဆမ်းဆိုင်းအောက်ရပ်ကွက်၊ တာချီလိတ်မြို့နယ်၊ ရှမ်းပြည်နယ်အရှေ့ပိုင်း |
| | | (၅) ဦးဆာဖာ ဒါရိုက်တာ ၁၃/တခလ (နိုင်) ၀၁၃၂၉၆ | အမှတ် (၃/၁၄)၊ ဂေါက်ကွင်းလမ်း၊ ဆမ်းဆိုင်း အောက်ရပ်ကွက်၊ တာချီလိတ်မြို့နယ်၊ရှမ်းပြည်နယ်အရှေ့ပိုင်း |
| | | (၆) ဦးအိုက်ပွတ် ဒါရိုက်တာ ၁၃/တခလ (နိုင်) ၀၁၂၀၅၀ | အမှတ် (၁/၄၃)၊ ပြည်ထောင်စုလမ်းမကြီး၊ ပါဆမ်ရပ်ကွက်၊ တာချီလိတ်မြို့နယ်၊ရှမ်းပြည်နယ်အရှေ့ ပိုင်း |
| | | (၇) ဦးထွန်းထွန်းနိုင် ဒါရိုက်တာ ၁၃/ပဘတ (နိုင်) ၀၀၂၅၉၂ | အမှတ်( ၉၈)၊ ကုန်ဈေးတန်းလမ်း ရပ်ကွက်၊ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉-၅၁၀၃၃၇၀

၂။ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်(၉၈)၊ကုန်ဈေးတန်းလမ်း ရပ်ကွက်၊ ပန်းဘဲတန်းမြို့နယ်၊ရန်ကုန် မြို့

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးထွန်းထွန်းနိုင်(ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - တာချီလိတ်မြို့တွင်းသို့ ရေပေးဝေဖြန့်ဖြူးခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -